ကန့်သတ်

**ကုမ္ပဏီအမည်** - China CBA Investment Company Limited
**လုပ်ငန်း** - ပါကေးနှင့် သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၆-၁၁-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၁၇-၁၁ -၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၁-၁၂-၂၀၁၅ | | |
| | (တတိယအကြိမ်) | ၃၀-၁၂-၂၀၁၅ | ၆-၁-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ပထမ အကြိမ်) | ၁၇-၁၁-၂၀၁၅ | ၁၀-၁၂-၂၀၁၅ | |
| | (ဒုတိယ အကြိမ်) | ၁-၁၂-၂၀၁၅ | | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၇-၁၁-၂၀၁၅ | ၁-၁၂-၂၀၁၅ | |
| | (ဃ) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ | ၁၇-၁၁-၂၀၁၅ | ၁-၁၂-၂၀၁၅ | |
| ၄ | PAT တင်ပြခြင်း | ၁၆-၁၁-၂၀၁၅<br>၄၂/၂၀၁၅ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၆-၁၁-၂၀၁၅ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၀-၁၁-၂၀၁၅ | | |
| ၇ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး ( ၂၁/၂၀၁၅) သို့ တင်ပြခြင်း | ၂၇-၁၁-၂၀၁၅ | | နိုင်ငံတော်သမ္မတရုံးမှ ခွင့်ပြုပြီး ဖြစ်ပါသည်။ |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး သို့ တင်ပြခြင်း | | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း | | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် အစုံပေးပို့ခြင်း | ၁-၁-၂၀၁၆ | | |
| ၉ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | ၈-၁-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၅၈ ရက်** | | |

ကန့်သတ်

ကုမ္ပဏီအမည် - China CBA Investment Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ပါကေးနှင့် သစ်ခွဲသားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅)၊ (ဈ) ရတနာပုံရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီး၊

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၅.၀၀၀ သန်း

ရောင်းချမည့်နည်းစနစ် - ပြည်ပ ၅၀ %၊ ပြည်တွင်း ၅၀ %

လုပ်ငန်းသက်တမ်း - ကနဦး (၂၀)နှစ်

အရင်းကြေကာလ - ၅ နှစ် ၃ လ

IRR - ၂၂%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈.၃၄၀ | - |
| ၄ | ဝင်ငွေခွန် | ၁၇၉၄.၆၇၈ | ၅၈၄၃.၉၇၉ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၅၇၇.၄၅၇ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၂၀၂.၀၄၂ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါ အခွန်ပေးရမည့် ဝန်ထမ်း(၁၃)ဦး |
| ၈ | CSR (၂%) | | ၃၅၀.၆၃၇ |
| ၉ | မြေငှားရမ်းခ | | ၂.၉၄၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၄၅ ဦးအလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၁ | စုစုပေါင်း | ၁၈၀၅.၁၇၈ | ၈၉၇၈.၂၁၃ |
| | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် China CBA Investment Co., Ltd. တည်ထောင်၍ ပါကေးနှင့်သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - China CBA Investment Co., Ltd.<br>- Mr. Bao Zhenbin (Chinese) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Bao Zhenbin (တရုတ်) ၇၀ %<br>- ဒေါ်ချိုချိုစန်း (မြန်မာ) ၂၀ %<br>- Mr. Jiang Jianguo (တရုတ်) ၅ %<br>- Mr. Tong Weijun (တရုတ်) ၅ % |
| ၃။ | လုပ်ငန်းအမျိုးအစား | - ပါကေးနှင့်သစ်ခွဲသားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ် (ပပ-၃၅)၊ (ဈ)ရတနာပုံ ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးဇော်မင်းထွန်း |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၀၈ ဧက (၈,၄၁၇.၄၆ စတုရန်းမီတာ) |
| ၅။ | မြေနှင့်အဆောက်အဦ ငှားရမ်းခ | - တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၄၂၀၈၇.၃<br>တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅ |
| | မြေငှားရမ်းကာလ | - ၂၀ နှစ် |
| | လုပ်ငန်းသက်တမ်း | - ၂၀ နှစ် |
| ၆။ | တည်ဆောက်ရေးကာလ | - ၂၄ လ |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **US$ ၅.၀၀၀ သန်း** |

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၃.၇၁၈ | ၀.၅၈၀ | **၄.၂၉၈** |
| စက်နှင့်စက်ပစ္စည်း | ၀.၁၃၉ | | **၀.၁၃၉** |
| အဆောက်အဦ | ၀.၁၄၃ | | **၀.၁၄၃** |
| မြေငှားရမ်းခ | | ၀.၄၂၀ | **၀.၄၂၀** |
| **စုစုပေါင်း** | ၄.၀၀၀ | ၁.၀၀၀ | ၅.၀၀၀ |

| | | |
|---|---|---|
| ၈။ | ပြည်ပမှ အခွန်အကောက် ကင်း လွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တည်ဆောက်မှုကာလအတွင်း တင်သွင်းမည့် စက်ပစ္စည်း နှင့် လုပ်ငန်းသုံးပစ္စည်းများကို တင်ပြထားပါသည်။ |
| ၉။ | ဝန်ထမ်းအင်အား | - ၄၈ ဦး |
| | ပြည်တွင်း | - ၄၅ ဦး (အမြင်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၃ ဦး( ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ USD ၁,၅၀၀ ဖြစ်ပါသည်။) |
| ၁၀။ | ရောင်းချမည့်စနစ် | - ပြည်ပ ၅၀ %၊ ပြည်တွင်း ၅၀ % |
| ၁၁။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် | (see below) |

| စဉ် | အမျိုးအမည် | အရေအတွက် (Pcs) | ရောင်းချမည့် ဈေးနှုန်း (US $ /Pcs) |
|---|---|---|---|
| (က) | Teak (ပြည်ပ ၅၀%) | | |
| (၁) | Parquet (3"-6") | ၆၉၁,၂၀၀ | ၂.၉၃ |
| | Parquet (6"-6" ) | ၃၄၅,၆၀၀ | ၅.၈၆ |
| (၂) | Sawn Timber (4"-4") | ၃၂,၄၀၀ | ၂၉.၂၈ |
| | Sawn Timber (12"-4") | ၂၁,၆၀၀ | ၃၆.၆၀ |
| (ခ) | Hardwood (ပြည်ပ ၅၀%) | | |
| (၁) | Parquet (3"-6") | ၆၉၁,၂၀၀ | ၁.၄၆ |
| | Parquet (6"-6" ) | ၃၄၅,၆၀၀ | ၂.၉၃ |
| (၂) | Sawn Timber (4"-4") | ၃၂,၄၀၀ | ၁၂.၄၄ |
| | Sawn Timber (12"-4") | ၂၁,၆၀၀ | ၁၇.၅၇ |

| စဉ် | အမျိုးအမည် | အရေအတွက် (Pcs) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /Pcs) |
|---|---|---|---|
| (ဂ) | Teak (ပြည်တွင်း ၅၀%) | | |
| (၁) | Parquet (3"-6") | ၆၉၁,၂၀၀ | ၁,၄၆၄.၀၀ |
| | Parquet (6"-6" ) | ၃၄၅,၆၀၀ | ၂,၉၂၈.၀၀ |
| (၂) | Sawn Timber (4"-4") | ၃၂,၄၀၀ | ၁၄,၆၄၁.၀၀ |
| | Sawn Timber (12"-4") | ၂၁,၆၀၀ | ၂၃,၄၂၆.၀၀ |

| | | |
|---|---|---|
| | | အမျိုးအမည် / အရေအတွက် (Pcs) / ရောင်းချမည့်ဈေးနှုန်း (ကျပ်/Pcs)<br>(ဃ) Hardwood ( ပြည်တွင်း ၅၀% )<br>(၁) Parquet (3"-6") ၆၉၁,၂၀၀ ၇၃၃.၀၀<br>Parquet (6"-6" ) ၃၄၅,၆၀၀ ၁,၄၆၄.၀၀<br>(၂) Sawn Timber (4"-4") ၃၂,၄၀၀ ၇,၃၂၀.၀၀<br>Sawn Timber (12"-4") ၂၁,၆၀၀ ၁၁,၇၁၃.၀၀ |
| ၁၂။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်)<br>ကုမ္ပဏီ၏ အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၁၄၈၁၉.၈၁ သန်း<br>- ကျပ် ၁၂၂၉၆.၄၄ သန်း<br>- ကျပ် ၂၅၂၃.၃၇ သန်း |
| ၁၃။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br><br>- ကျပ် ၈၄၁.၁၂၅ သန်း<br>- ကျပ် ၂၂၅.၃၅၁ သန်း<br>- ၅ နှစ် ၃ လ<br>- ၂၂ % |
| ၁၄။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂၄၀၀၀ kWh |
| ၁၅။ | ကုမ္ပဏီမှ CSR ဆောင်ရွက်မည့် အစီအစဉ် | - လုပ်ငန်းမှ လည်ပတ်ဆောင်ရွက်ရာမှ ရရှိမည့် အသားတင်အမြတ်ငွေ၏ ၂% အား လူမှုရေး ဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (CSR) အတွက် အသုံးပြုဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။ |
| ၁၆။ | အခြားတင်ပြချက် | - China CBA Investment Co., Ltd. ၏ ကုမ္ပဏီ MOA, AOA တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဇော်မင်းထွန်းနှင့်မြေငှားသူ China CBA Investment Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)၊ မြေဂရန်နှင့် စက်ရုံအဆောက်အဦ ပုံစံများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Mr. Bao Zhenbin ၊ Mr. Jiang Jianguo ၊ Mr. Tong Weijun နှင့် ဒေါ်ချိုချိုစန်းတို့ ချုပ်ဆိုထားသော ဖက်စပ်စာချုပ် (မူကြမ်း) တင်ပြထားပါသည်။<br>- ဒါရိုက်တာ စာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများကို တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် တရုတ်နိုင်ငံရှိ Bank of Zhejiang Limited တွင် ၂၉-၉-၂၀၁၅ ရက်နေ့အထိ Mr. Bao Zhenbin အမည်ဖြင့် ယွမ် ၉၂၀၀၀၀၀.၀၀ (USD ၁၄၂၁၉၄၇.၉၄)၊ Mr. Tong Weijun အမည်ဖြင့် ယွမ် ၁၂၀၀၀၀၀.၀၀ (USD ၁၈၅၄၇၁.၄၀)၊ Mr. Jiang Jianguo အမည် ဖြင့် ယွမ် ၃၁၅၀၀၀၀.၀၀ (USD ၄၈၆၈၆၂.၄၄) ရှိကြောင်းနှင့် မြန်မာနိုင်ငံ C B Bank တွင် ဒေါ်ချိုချိုစန်း အမည်ဖြင့် ၂၉-၉-၂၀၁၅ ရက်နေ့အထိ ကျပ် ၂၀,၀၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ ပုဂ္ဂလိက မြေငှားရမ်း ဆောင်ရွက်ခြင်းအတွက် ရှင်းလင်းတင်ပြချက်၊ အလုပ်အကိုင် အသစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊အလုပ်သမားများလစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝနှင့် CSR တို့ကို တင်ပြထားပါသည်။<br>- Exchange Rate အဖြစ် 1US$ = 1200 MMK ဖြင့် တွက်ချက် တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၇။ | စိစစ်တင်ပြချက် | - ပုဂ္ဂလိကမြေ ငှားရမ်းဆောင်ရွက်ခြင်းအတွက် နိုင်ငံတော်သမ္မတရုံးမှ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၄ ရက်စွဲပါ စာဖြင့် ခွင့်ပြုကြောင်း အကြောင်းပြန်ကြားလာပါသည်။<br>- ကုမ္ပဏီမှ ပုဂ္ဂလိကကျွန်းနှင့် သစ်မာစိုက်ခင်းမျိုးစုံ (၁၀၁၀)ဧက တည်ထောင်ပြီး ကိုယ်ပိုင်ကုန်ကြမ်း ရယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူမည်ဖြစ်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၂/ န - ၁၃၅ / ၂၀၁၆ ( ၀၃၅ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် China CBA Investment Co., Ltd. တည်ထောင်၍ ပါကေးနှင့် သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံ Mr. Bao Zhenbin မှ ၇၀ %၊ Mr. Jiang Jianguo မှ ၅ %၊ Mr. Tong Weijun မှ ၅ % နှင့် မြန်မာနိုင်ငံ ဒေါ်ချိုချိုစန်းမှ ၂၀ % အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် China CBA Investment Co., Ltd. တည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (ဈ)ရတနာပုံရပ်ကွက်၊ မြေကွက် အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂.၀၈ ဧက (၈,၄၁၇.၄၇ စတုရန်း မီတာ)ကို ငှားရမ်းကာ ပါကေးနှင့် သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဇော်မင်းထွန်းနှင့် မြေငှားသူ China CBA Investment Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ်(မူကြမ်း)၊ တရုတ်နိုင်ငံမှ Mr. Bao Zhenbin ၊ Mr. Jiang Jianguo ၊ Mr. Tong Weijun နှင့် မြန်မာနိုင်ငံမှ ဒေါ်ချိုချိုစန်းတို့ ချုပ်ဆိုမည့် ဖက်စပ် စာချုပ် (မူကြမ်း) တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၂.၀၈ ဧက (၈,၄၁၇.၄၇ စတုရန်း မီတာ)ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခ မှာ တစ်စတုရန်းမီတာလျှင် US$ ၅ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ US$ ၄၂,၀၈၇.၃ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၂၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂၄ လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၅.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | ၃.၇၁၈ | ၀.၅၈၀ | **၄.၂၉၈** |
| (ခ) | စက်နှင့် စက်ပစ္စည်း | ၀.၁၃၉ | - | **၀.၁၃၉** |
| (ဂ) | အဆောက်အဦ | ၀.၁၄၃ | - | **၀.၁၄၃** |
| (ဃ) | မြေငှားရမ်းခ | - | ၀.၄၂၀ | **၀.၄၂၀** |
| | **စုစုပေါင်း** | **၄.၀၀၀** | **၁.၀၀၀** | **၅.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ(၄၅)ဦးနှင့် ပြည်ပဝန်ထမ်းဦးရေ(၃)ဦး စုစုပေါင်း (၄၈) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၅၀,၀၀၀ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများကို ပြည်ပ ၅၀ %နှင့် ပြည်တွင်း ၅၀ % ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (Pcs) | ရောင်းချမည့် ဈေးနှုန်း (US $ /Pcs) |
|---|---|---|---|
| **(က)** | **Teak ( ပြည်ပ ၅၀%)** | | |
| (၁) | Parquet (3"-6") | ၆၉၁,၂၀၀ | ၂.၉၃ |
| | Parquet (6"-6" ) | ၃၄၅,၆၀၀ | ၅.၈၆ |
| (၂) | Sawn Timber(4"-4") | ၃၂,၄၀၀ | ၂၉.၂၈ |
| | Sawn Timber (12"-4") | ၂၁,၆၀၀ | ၃၆.၆၀ |
| **(ခ)** | **Hardwood (ပြည်ပ ၅၀%)** | | |
| (၁) | Parquet (3"-6") | ၆၉၁,၂၀၀ | ၁.၄၆ |
| | Parquet (6"-6" ) | ၃၄၅,၆၀၀ | ၂.၉၃ |
| (၂) | Sawn Timber(4"-4") | ၃၂,၄၀၀ | ၁၂.၄၄ |
| | Sawn Timber (12"-4") | ၂၁,၆၀၀ | ၁၇.၅၇ |

| အမျိုးအမည် | အရေအတွက် (Pcs) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/Pcs) |
|---|---|---|
| **(ဂ) Teak ( ပြည်တွင်း ၅၀%)** | | |
| (၁) Parquet (3"-6") | ၆၉၀,၂၀၀ | ၁,၄၆၄.၀၀ |
| Parquet (6"-6" ) | ၃၄၅,၆၀၀ | ၂,၉၂၈.၀၀ |
| (၂) Sawn Timber(4"-4") | ၃၂,၄၀၀ | ၁၄,၆၄၁.၀၀ |
| Sawn Timber (12"-4") | ၂၁,၆၀၀ | ၂၃,၄၂၆.၀၀ |
| **(ဃ) Hardwood (ပြည်တွင်း ၅၀%)** | | |
| (၁) Parquet (3"-6") | ၆၉၀,၂၀၀ | ၇၃၃.၀၀ |
| Parquet (6"-6" ) | ၃၄၅,၆၀၀ | ၁,၄၆၄.၀၀ |
| (၂) Sawn Timber(4"-4") | ၃၂,၄၀၀ | ၇,၃၂၁.၀၀ |
| Sawn Timber (12"-4") | ၂၁,၆၀၀ | ၁၁,၇၁၃.၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန်ဒေါ်လာ**

**(သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၁၄၈၁၉.၈၁ |
| (ခ) | အသုံးစရိတ် | ၁၂၂၉၆.၄၄ |
| (ဂ) | အသားတင်အမြတ် | ၂၅၂၃.၃၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၈၄၁.၁၂ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၂၂၅.၃၅၁ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ်နှင့် ၃ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၂% ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် စက်မှုဇုန် မြို့ကွက်သစ် ဧရိယာတွင် ပါဝင်ပြီး စက်မှုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေချထားပေးခဲ့သူအား မြေငှားဂရန် ထုတ်ပေးထားပြီး မြေနေရာ ဖြစ်ပါသဖြင့်

နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းနှင့် လွတ်ကင်းပြီး မြို့ပြစီမံကိန်းကိုလည်း ထိခိုက်ခြင်း မရှိပါကြောင်း၊ သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချမည့် လုပ်ငန်းဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထိုက်အလျောက် အထောက်အကူဖြစ်နိုင်ပါကြောင်း၊ စက်မှုလုပ်ငန်းရှင်များအနေဖြင့် တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ ဒေသန္တရအမိန့်နှင့် ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားမည် ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း၊ စက်မှုဇုန်မြို့ကွက်သစ် ဧရိယာတွင်ပါဝင်ပြီး စက်မှုလုပ်ငန်းလုပ်ကိုင်ရန်အတွက် ချထားပေးခဲ့သည့် မြေနေရာ ဖြစ်ခြင်းကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ပါကြောင်းနှင့် စက်ရုံအတွက် သတ်မှတ်ထားသော အချက်အလက်များ ပြည့်စုံစွာ ဆောင်ရွက်စေပြီးမှသာ ခွင့်ပြုပေးသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** သစ်ကုန်ကြမ်းရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည်ကုန်ကြမ်းရရှိနိုင်ရေးအတွက် ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သစ်တောသယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် CITES (မျိုးဆက် ပျက်သုန်းလုဆဲ တောရိုင်းတိရစ္ဆာန်နှင့် သစ်ပင်ပန်းပင်များ နိုင်ငံတကာ ကုန်သွယ်မှုဆိုင်ရာ ကွန်ဗင်းရှင်း) မှ တားမြစ်ခြင်း မရှိသည့် သစ်မျိုးများ တင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ပါကြောင်း၊ ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ် အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု(CSR)အား အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ပြီး

အစီရင်ခံစာ တင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မှု အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါသည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် EMP စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် ပြဋ္ဌာန်း ထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မန္တလေးမြို့တော် စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီလိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

**[ကုမ္ပဏီမှ ဆက်လက်ရေးဆွဲ တင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။]**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

**[ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိတင်ပြထားပါသည်။]**

(ဃ) **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ** လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ၅၁ လမ်းနှင့် သခင်ဖိုးလှကြီးလမ်းထောင့်တွင် တည်ရှိပြီး စက်မှုဇုန်နယ်မြေအတွင်း ပါဝင်သောကြောင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ငွေကြေးအထောက်အထားအဖြစ် တရုတ်နိုင်ငံ၊ Bank of Zhejiang Limited တွင် ၂၉-၉-၂၀၁၅ ရက်နေ့အထိ Mr. Bao Zhenbin အမည် ဖြင့် ယွမ် ၉၂၀၀၀၀၀.၀၀(US$ ၁၄၂၁၉၄၇.၉၄)၊ Mr. Tong Weijun အမည်ဖြင့် ယွမ် ၁၂၀၀၀၀၀.၀၀ (US$ ၁၈၅၄၇၁.၄၀)၊ Mr. Jiang Jianguo အမည်ဖြင့် ယွမ် ၃၁၅၀၀၀၀.၀၀ (US$ ၄၈၆၈၆၂.၄၄)နှင့် မြန်မာနိုင်ငံ C B Bank တွင် ဒေါ်ချိုချိုစန်း အမည်ဖြင့် ၂၉-၉-၂၀၁၅ ရက်နေ့အထိ ကျပ် ၂၀,၀၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်း ကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ လျှပ်စစ် ဓါတ်အားရယူသုံးစွဲမည့် အစီအစဉ်၊ ပုဂ္ဂလိက မြေငှားရမ်း ဆောင်ရွက်ခြင်းအတွက် ရှင်းလင်း တင်ပြချက်၊ အလုပ်အကိုင် အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝနှင့် CSR တို့ကို တင်ပြထားပါသည်။

၁၃။ China CBA Investment Co., Ltd. မှ သဘာဝ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ဆန်းစစ်ခြင်း (IEE)နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (EMP) လုပ်ငန်းအစီရင်ခံစာ အပြည့်အစုံကို ဆက်လက်တင်ပြမည်ဖြစ်ကြောင်းတင်ပြစာ၊ သစ်စိုက်ခင်းလျှောက်ထား၍ စိုက်ပျိုးမည် ဖြစ်ကြောင်း တင်ပြစာ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်အစီအစဉ်များ ကို တင်ပြထားပါသည်။

၁၄။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ (က) ပုဂ္ဂလိကမြေ ငှားရမ်းဆောင်ရွက်ခြင်းအတွက် နိုင်ငံတော် သမ္မတရုံးမှ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၄ ရက်စွဲပါ စာဖြင့် ခွင့်ပြုကြောင်း အကြောင်းပြန်ကြားလာပါသည်။

(ခ) ကုမ္ပဏီမှ ပုဂ္ဂလိကကျွန်းနှင့် သစ်မာစိုက်ခင်းမျိုးစုံ(၁၀၁၀)ဧက တည်ထောင်ပြီး ကိုယ်ပိုင်ကုန်ကြမ်း ရယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ တရုတ်နိုင်ငံ Mr. Bao Zhenbin မှ ၇၀ %၊ Mr. Jiang Jianguo မှ ၅ %၊ Mr.Tong Weijun မှ ၅ % နှင့် မြန်မာနိုင်ငံ ဒေါ်ချိုချိုစန်းမှ ၂၀ % အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် China CBA Investment Co., Ltd. တည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (၈၂)ရတနာပုံရပ်ကွက်၊ မြေကွက် အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅)ရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂.၁၈ ဧက (၈,၄၁၇.၄၇ စတုရန်းမီတာ)ကို ငှားရမ်းကာ ပါကေးနှင့်သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **China CBA Investment Co., Ltd.** | (၁) Mr. Bao Zhenbin<br>Chinese<br>PP No. G 28969736 | No. 19, Taiping Stone, Yuhai Street, Ruian City, Zhejiang Province, China. |
| | | (၂) Daw Cho Cho San<br>Myanmar<br>9/ Ma Ya Ma (Naing) 027284 | No. (248), Corner of 28th and 83th Street, Mandalay. |
| | | (၃) Mr. Jiang Jianguo<br>Chinese<br>PP No. G 36694818 | Aotou Village, Tongpu Town, Ruian City, Zhejiang Province, China. |
| | | (၄) Mr. Tong Weijun<br>Chinese<br>PP No. G 61600837 | Room No.701, Unit 6, Building No.4, Yanan Road, Huangshigang Street, Huangshigang District, Huangshi City, Hubei Province, China, |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၇၉၃၁၀၁၃၁၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်ချိုချိုစန်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပါကေးနှင့်သစ်ခွဲသားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -



နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့



စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆( ၀၀၄ )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၆ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁၇.၁၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက - ၂ / န - ၁၃၅ / ၂၀၁၅ (၈၈၁)

၁။ ပြည်ကြီးတံခွန်မြို့နယ်၊ (၈)ရတနာပုံရပ်ကွက်၊ မြေကွက်အမှတ်(၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅)၊မြေဧရိယာ ၂.၀၈ဧက (၈၄၁၇.၆၇ စတုရန်းမီတာ)ကို ငှားရမ်း၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mr. Bao Zhenbin မှ ၇၀%၊ Mr. Jiang Jianguo မှ ၅%၊ Mr. Tong Weijun မှ ၅%၊ မြန်မာနိုင်ငံ ဒေါ်ချိုချိုစန်း မှ ၂၀% ထည့်ဝင်ပြီး China CBA Investment Co., Ltd တည်ထောင်ကာ သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လျှောက်ထားမြေနေရာနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ လျှောက်ထားတင်ပြသည့် မြေသည် ဦးဇော်မင်းထွန်း(၁၃/ပလန(နိုင်)၀၄၄၉၉၃)အမည်ဖြင့် အမှုတွဲအမှတ် (၀၄၇၀/၂၀၁၁-၂၀၁၂)အရ (၂၅.၅.၂၀၁၁)မှ (၂၄.၅.၂၀၄၁)ရက်နေ့အထိ နှစ်(၃၀)သက်တမ်းဂရန် ထုတ်ပေးထားသော မြေကွက်ဖြစ်ကြောင်း၊ သခင်ဖိုးလှကြီးလမ်းနှင့် ၅၀×၅၁ လမ်းကြားတွင် တည်ရှိကာ ဂရန်အမည်ပေါက်သူထံမှ ဒေါ်ချိုချိုစန်းက မြေငှားရမ်းစာချုပ်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် စက်မှုဇုံမြို့ကွက်သစ် ဧရိယာတွင် ပါဝင်ပြီး စက်မှုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေချထားပေးခဲ့သူအား မြေငှားဂရန်ထုတ်ပေးထားပြီး မြေနေရာ ဖြစ်ပါသဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းနှင့် လွတ်ကင်းပြီး မြို့ပြစီမံကိန်းကိုလည်း ထိခိုက်ခြင်းမရှိပါကြောင်း ၊

(ခ) သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချမည့်လုပ်ငန်း ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထိုက်အလျောက် အထောက်အကူဖြစ်နိုင်ပါကြောင်း ၊

(ဂ) စက်မှုဇုန်လုပ်ငန်းရှင်များအနေဖြင့် တိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ ဒေသန္တရအမိန့်နှင့် ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း ၊

(ဃ) စက်မှုဇုံမြို့ကွက်သစ် ဧရိယာတွင်ပါဝင်ပြီး စက်မှုလုပ်ငန်း လုပ်ကိုင်ရန် အတွက် ချထားပေးခဲ့သည့် မြေနေရာ ဖြစ်ခြင်းကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း ၊

(င) စက်ရုံအတွက် သတ်မှတ်ထားသော အချက်အလက်များ ပြည့်စုံစွာ ဆောင်ရွက်စေပြီးမှသာ ခွင့်ပြုပေးသင့်ပါကြောင်း ။

၃။ သို့ဖြစ်ပါ၍ ပြည်ကြီးတံခွန်မြို့နယ်၊ (ဈ)ရပ်ကွက်၊ အကွက်အမှတ် (ပပ-၃၅)၊ ဦးပိုင်အမှတ် (၁+၂)၊ ဧရိယာ(၂.၀၈)ဧကရှိ မြေကွက်အား ငှားရမ်းပြီး China CBA Investment Co., Ltd တည်ထောင်ကာ သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု အဖြစ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့် ကိစ္စနှင့်ပတ်သက်ပြီး (၁၇.၁၂.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၄၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၄)အရ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် လုပ်ငန်းလုပ်ကိုင်သူ လုပ်ငန်းရှင်အနေဖြင့် **စက်ရုံအတွက် သတ်မှတ်ထားသော အချက်အလက်များ ပြည့်စုံစွာ ဆောင်ရွက်စေပြီးမှသာ** ခွင့်ပြု ပေးသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို
လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။



နောက်ဆက်တွဲ(ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

MTC, 221
26/12

MIC 5572
14.12.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၃၄၉၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၇-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၃၅/၂၀၁၅ (၈၈၂)

၁။ တရုတ်နိုင်ငံ Mr. Bao Zhenbin မှ (၇၀%)၊ Mr. Jiang Jianguo မှ(၅%)၊ Mr. Tong Weijun မှ (၅%) နှင့် မြန်မာနိုင်ငံမှ ဒေါ်ချိုချိုစန်းမှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် China CBA Investment Co., Ltd. တည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (၈၂) ရတနာပုံရပ်ကွက်၊ မြေကွက်အမှတ် (၁+၂)၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅)ရှိ စုစုပေါင်းမြေ အကျယ်အဝန်း (၂.၀၈) ဧက (၈,၄၁၇.၄၇ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ခွဲသားနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သစ်ခွဲသားနှင့်သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ရာတွင် ဓာတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်မည်ဖြစ်ပါသဖြင့် အဆိုပါကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ သုံးစွဲခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းနှင့်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေထု၊လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံ လည်ပတ်ခြင်းမှ ထွက်ရှိလာမည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ သစ်လုံးခွဲရာတွင်လွှများ၊ အခြားစက်ပစ္စည်း ကိရိယာများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများ မတော်တဆ ဘေးအန္တရာယ် ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၃။ သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းက ကျင်းပပြုလုပ်သည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း ၊ ရေရှည် ကုန်ကြမ်းရရှိနိုင်ရေးအတွက် ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့် လည်း နိုင်ငံပိုင်သစ်တောသယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် CITES (မျိုးဆက်

*D:\DKW\VT\DSSY\Dec (CD)\Premium.doc5*

ပျက်သုဉ်းလုဆဲ တောရိုင်းတိရစ္ဆာန် နှင့် သစ်ပင်ပန်းပင်များ နိုင်ငံတကာ ကုန်သွယ်မှုဆိုင်ရာ ကွန်ဗင်းရှင်း ) မှ တားမြစ်ခြင်းမရှိသည့် သစ်မျိုးများ တင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ China CBA Investment Co., Ltd. မှ သစ်ခွဲသားနှင့်သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility- CSR)အတွက် အမြတ်ငွေ၏ (၂%) အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE ) ကို ဆောင်ရွက်ပြီး IEE အစီရင်ခံစာရေးဆွဲတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ အရည်စီမံခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံ ခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မန္တလေးမြို့တော်စည်ပင်သာယာရေး ဥပဒေ၊ နည်းဥပဒေများ၊ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူတို့၏ ဆန္ဒနှင့် သဘောထား မှတ်ချက်ရယူဆောင်ရွက်ရန်။

20/21

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

20/21

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း

D:\DKWWT\DSSY\Dec (CD)\Premium.doc7

နောက်ဆက်တွဲ(ဂ)

၆၃၀,16/ ၅။၁၂



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ(၂)၂၀၁၅-၂၀၁၆ (၉၂၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်

---

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၃၅ / ၂၀၁၅ (၈၈၃)

၁။ China CBA Investment Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (ဈ)ရတနာပုံရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(ပပ-၃၅) မြေကွက်အမှတ်(၁+၂)တွင် သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး သစ်ခွဲသားများနှင့် သစ်အချောထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ China CBA Investment Co.,Ltd. မှ သစ်ခွဲသားများနှင့် သစ်အချော ထည်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲ ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၀.၁၂.၁၅

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

နောက်ဆက်တွဲ(ဃ)



မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးမြို့

စာအမှတ်၊ ၁၀၀၁/ ၁ / အထထ ( ၂၃၂၈ )
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

သို့

ITC, 7 / 4/12

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၃၅/ ၂၀၁၅(၈၈၄)

P. 1307 / 4.12.15

၁။ တရုတ်နိုင်ငံ Mr. Bao Zhenbin မှ ၇၀% ၊ Mr.Jiang Jianguo မှ ၅% ၊ Mr.Tong Weijun မှ ၅% နှင့် မြန်မာနိုင်ငံ ဒေါ်ချိုချိုစန်းမှ ၂၀% အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံတကာ နိုင်ငံခြားရင်းနှီးမြှုပ်မှုဥဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် China CBA Investment Co.,Ltd တည်ထောင်၍ ပြည်ကြီးတံခွန်မြို့နယ်၊ (ဈ)ရတနာပုံရပ်ကွက်၊ မြေကွက်အမှတ်(၁+၂)၊ မြေတိုင်းရပ်ကွက် အမှတ်(ပပ-၃၅)ရှိ စုစုပေါင်း မြေအကျယ်အဝန်း(၂.၀၈)ဧက (၈၄၁၇.၄၇)စတုရန်းမီတာကို ငှားရမ်းကာ သစ်ခွဲသားများနှင့်သစ်အချောထည်များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် အဆိုပါမြေနေရာတွင် သစ်ခွဲသားများနှင့် သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါလုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ၅၁လမ်းနှင့်သခင်ဖိုးလှကြီးလမ်းထောင့်တွင် တည်ရှိပြီး စက်မှုဇုန်နယ်မြေအတွင်းပါဝင်သောကြောင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေများနှင့်အညီလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ( )
(သက်နိုင်ထွန်း၊ တွဲဖက်အတွင်းရေးမှူး)

5/D/AAH/PM(133)